နှစ်ဆယ့်တစ်ရာစု မျက်မှောက်ခေတ်

# အလောင်းတော်ကဿပ

လှသိန်းဝင်း (ကနီ)



ဓာတ်ပုံ-ကိုဝင်းဇော်(ပန်တော်ဦး)

# "မာတိကာ"

စာမူခွင့်ပြုချက်အမှတ် - ၃၂၀၈၉၃၀၆၁၂

မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၃၂၀၀၅၇၀၁၀၇

ပုံနှိပ်ခြင်း - ပထမအကြိမ်

ထုတ်ဝေသည့်ကာလ - ၂၀၀၇၊ ဇန်နဝါရီလ

ပုံနှိပ်သူ - မျိုးညွန့် အော့(ဖ်)ဆက်(မြ-၀၃၂၁၁)
ဗိုလ်ချုပ်လမ်း၊အေးသာယာရပ်၊မုံရွာမြို့
ဖုန်း - ၂၁၃၈၃

ထုတ်ဝေသူ - ကိုဝင်းဇော် (ဖိုလ်ဝင်းတောင်)
ယင်းမာပင်မြို့နယ်၊စစ်ကိုင်းတိုင်း။

အုပ်ရေ - ၁၀၀၀

တန်ဖိုး - ဓမ္မဒါန





အလောင်းတော်ကဿပ



ကျောက်ဂူတံခါး

# နှစ်ဆယ့်တစ်ရာစု မျက်မှောက်ခေတ်
# "အလောင်းတော်ကဿပ"

"ဇိနော မယှံ ဇယံ ဒေတု"

မြန်မာနိုင်ငံတွင် တန်ခိုးကြီးသော ဘုရားစေတီများ အများအပြားရှိကြ၏။ ဗုဒ္ဓဘာသာဝင် သူတော်စင်တို့သည် "ဘုရားရည်မှန်း၊ ခြေတစ်လှမ်း၊ သိန်းသန်းကုဋေထိုက် ---" ဟူသည်နှင့်အညီ ဗုဒ္ဓကိုအာရုံပြု၍ ဘုရားဖူးရန်သွားသူ၏ ခြေတစ်လှမ်းသည် ကုဋေတစ်သန်းတန်သည်ဟု ယုံကြည်ကြသဖြင့် ဘုရားဖူးထွက်လေ့ရှိကြသည်။

ထိုသို့ ဘုရားဖူးထွက်ကြရာတွင် မြန်မာနိုင်ငံအနှံ့အပြား တန်ခိုးကြီးဘုရားများ လှည့်လည်ဖူးသူများသည် အညာဒေသ ဘုရားဖူးခရီးစဉ်၌ စစ်ကိုင်းတောင်၊ မုံရွာ မိုးညှင်းသမ္ဗုဒ္ဓေ၊ ဗောဓိတစ်ထောင်တို့နှင့်အတူ မုံရွာမြို့အနောက်ဘက်ကမ်းရှိ ဖိုလ်ဝင်တောင်မှတဆင့် အလောင်းတော်ကဿပ အထိ ဘုရားဖူးရောက်ကြသည်။

ဤသို့လျှင် ဘုရားဖူးလာရောက်ကြသော သူတော်စင်များအတွက် 'နှစ်ဆယ့်တစ်ရာစု မျက်မှောက်ခေတ်၊ အလောင်းတော်ကဿပ' နှင့် ပတ်သက်သမျှကို တင်ပြလိုပါသည်။

## "အလောင်းတော်ကဿပ တည်နေရာ"

အလောင်းတော်ကဿပသည် မြန်မာနိုင်ငံအထက် ပိုင်း စစ်ကိုင်းတိုင်း၊ မုံရွာခရိုင်၊ ကနီမြို့နယ်တွင် တည်ရှိသည်။ ကနီမြို့၏ အနောက် (၂၀) ဒီဂရီ တောင်ဘက်ယွန်းယွန်းတွင် ရှိပြီး၊ အဖြောင့်တိုင်းအားဖြင့် ကနီမြို့မှ (၂၆) မိုင် ဝေးသည်။

မဟူတောင်၊ ပုံတောင်ပုံညာတောင်တန်းတွင် ပါဝင်သည့် ဝေဘူလ၊ ဝေဘာရ၊ သုနန္ဒရ တောင်သုံးလုံးတို့၏ အကြားတွင် ပုထိုးလုံးချောင်းအတွင်းစီးဝင်သော ဘုရားချောင်း၌ တည်ရှိသည်။ မဟာမြိုင်တောကြီးအတွင်း အမျိုးသား ဥယျာဉ်၏ ဗဟိုချက်မ၊ ပုထိုးလုံးကြီးဝိုင်း အကွက်အမှတ် (၃၆) တွင် အလောင်းတော်ကဿပ တည်ရှိပါသည်။ နိုင်ငံတော်မှ ဧရိယာဧက (၈၉) ဧက အကျယ်အဝန်းသတ်မှတ်၍ သာသနာ့ မြေအဖြစ် ကင်းလွတ်ခွင့်ပြုထားသည်။





## "သွားရာ လမ်းနှစ်သွယ်"

အလောင်းတော်ကဿပသို့ သွားနိုင်သည့်လမ်းမှာ နှစ်သွယ်ရှိသည်။ ကနီမြို့မှလည်းကောင်း၊ မုံရွာမြို့တစ်ဘက်ကမ်း ညောင်ပင်ကြီးမှတဆင့် ယင်းမာပင်မြို့မှလည်းကောင်း သွားနိုင်သည်။

ကနီမြို့မှသွားလျှင် တောင်ပေါက်ရွာ၊ ညောင်ပင်လယ်ရွာ၊ ကျောက်မြောင်းစခန်း၊ ချောင်းမကြီးစခန်း၊ ဘုရားဝ သစ်လုံးအိမ်ရာစခန်းမှ အလောင်းတော်ကဿပအထိ (၄၀) မိုင်ခရီးကို သွားရမည်ဖြစ်သည်။

မုံရွာမြို့တစ်ဘက်ကမ်း ညောင်ပင်ကြီးသို့ ကတို့ကူး၍ (၁၅) မိုင်အကွာ ယင်းမာပင်မြို့မှသွားလျှင် ယင်းမာပင်၊ ဇီးတောရွာ၊ ရင်ပေါင်တိုင်ရွာ၊ ကပိုင်ရွာ၊ ပွင့်ကြီးစခန်း၊ ဂုံညှင်းပင်စခန်း၊ မဟူနတ်နန်း၊ ကျောက်မြောင်းစခန်း စသည်ဖြင့် အလောင်းတော်ကဿပအထိ (၄၅) မိုင်ခရီးကို သွားရမည်ဖြစ်ပါသည်။

ထို့ပြင် နယ်လေးရပ်မှ ဘုရားဖူးလာကြသော သူတော်စင်များအနေဖြင့် -

- မင်းကင်းမြို့နယ် ပျားကျေးရွာမှ (၂၀) မိုင် ခြေလျင်လမ်းဖြင့်လည်းကောင်း

- ကနီမြို့နယ် ဆယ်ရွာချောင် ကူးဆိပ်ရွာမှ (၂၁) မိုင် ခြေလျင်လမ်းဖြင့်လည်းကောင်း
- ပုလဲမြို့နယ် စစ်လျင်မှ (၂၁) မိုင် ခြေလျင်လမ်းဖြင့် လည်းကောင်း
- ဂန့်ဂေါမြို့နယ် ကွမ်းဇဲမှ (၂၁) မိုင် ခြေလျင်လမ်းဖြင့် လည်းကောင်း

အလောင်းတော်ကဿပသို့ လာရောက်နိုင်ကြပါသည်။

ဂန့်ဂေါ-ယော-ဆော-မင်းကင်းမြို့နယ်များမှ ဘုရားဖူးများသည် စားစရာရိက္ခာအပြည့်အစုံ ထမ်းပိုးသယ်ယူကာ ခြေလျင်ခရီး အုပ်စုလိုက် တပျော်တပါး နှစ်စဉ်လာရောက်ကြပါသည်။

အလောင်းတော်ကဿပသို့ နယ်လေးရပ်မှလာကြရာတွင် ခရီးတစ်သောင်း (မိုင်-၂၀) ကျော်အတွင်း လူနေကျေးရွာများမရှိပဲ သစ်တောကြီးဝိုင်းအတွင်း မဟာမြိုင်တောနက်ကြီးထဲသွားရပြီး မဟူတောင်တန်း၏ အမြင့်ဆုံးနေရာ (၂၂၇၆)ပေအမြင့်အထိ တက်ပြီးမှ (၁၂၉၃) ပေသို့ရောက်အောင်ဆင်း၍ တောင်ဆင်းတောင်တက်ခရီးကို သွားကြရပါသည်။



ယခုအခါ ယင်းမာပင်မြို့မှ ဘုရားဝ အမျိုးသားဥယျာဉ် သစ်လုံးအိမ်စခန်းအထိ ပွင့်လင်းရာသီဖြစ်သော ဒီဇင်ဘာ၊ ဇန်နဝါရီ၊ ဖေဖော်ဝါရီ မတ်၊ ဧပြီ ( ၅ ) လတွင် မော်တော်ကားများဖြင့် လွယ်ကူစွာ သွားနိုင်ကြပြီဖြစ်ပါသည်။

သစ်လုံးအိမ်စခန်းမှ ဆင်များစီး၍သော်၎င်း၊ ခြေလျင်ခရီး အညောင်းပြေ လမ်းလျှောက်၍သော်၎င်း အလောင်းတော်ကဿပ စံကျောင်းတော်အထိ ( ၁ ) မိုင်ခရီး သွားနိုင်ကြပါသည်။

## "စေတိယပကာသနီကျမ်းအဆို"

၁၂၆၈-ခုနှစ်တွင် မင်းနေမျိုးသူရိန်ရန်အောင် ဘွဲ့ခံ စာရေးတော်ကြီး ဦးထွန်းအောင် ရေးသားသည့် စေတိယ ပကာသနီကျမ်း၌ -

"ကနီမြို့၏ အနောက်တောင်ယွန်း တစ်ညဉ့်အိမ်ခရီး ကွာအရပ်၌ ဝေဘာရ၊ ဝေပုလ္လ ဟူသော တောင်နှစ်လုံး၊ မြေကြောဆက်လျက်ရှိသည်။ ဂိဇ္ဈကူဋ ဟူသောတောင် (ယခု သုနန္ဒရတောင်) တစ်လုံးလည်း ဖိုခနောက်ဆိုင်ကဲ့သို့ရှိသည်။

ထို တောင်သုံးလုံးတို့၏အကြားသို့ အလွန်အေးမြစွာ သောချောင်းမကြီးခေါ် ရေလျှင်ချောင်းသည် တောင်အရပ်မှ စီးလာ၍ ဝေဘာရတောင် ကျောက်ဆောင်ဂူလိုဏ်အတွင်းသို့ ကွေ့လည်စီးဝင်ပြီးမှ မြောက်အရပ်သို့ ထွက်သွားပြီးလျှင် ချင်းတွင်းမြစ်သို့ ပေါင်းလေသည်။

ထိုကျောက်ဂူအတွင်းမှလည်း ချောင်းငယ်တစ်ခု စီးထွက်၍ ရေဆိုင်ချောင်းဆုံဖြစ်လေသည်။ ကျောက်လိုဏ်၏ အထက်ချောင်းပေါက်ကို အထက်ရေစပြွင် ခေါ်သည်၊ အောက်ချောင်းပေါက်ကို အောက်ရေစပြွင် ခေါ်သည်။



မဟူတောင်



ချောင်းမကြီး



အမျိုးသားဥယျာဉ်သစ်လုံးအိမ်ခန်း

ထိုရေဆိုင် ကျောက်လိုဏ်၏အထက်၌ အလောင်းတော်ကဿပ ရဟန္တာရုပ်ပွားတော်မြတ်၊ အနောက်မြောက်အရပ်သို့ ဦးခေါင်းပြုလျက် လက်ျာလက်တော်ကိုခေါင်းအုံး၍ ရွှေသာလျောင်းသဏ္ဍာန်၊ တန်ဆောင်းပြာသာဒ်နှင့်ရှိသည်။

ထိုအနီး အုတ်ရိုးစေတီတစ်ဆူနှင့် ခေါင်းလောင်း ( ၅ ) လုံး၊ ဇရပ်အဆောင်ဆောင်ရှိသည်။ ထိုရုပ်ပွားတော်ထားသော အောက်၌ ကျောက်တံခါးလေးတန်ပိတ်၍ အလောင်းတော်ကဿပ အစစ်သည် အမျက်ရတနာများစွာသော အစုအပုံနှင့်တကွ ရှိလေသည်ကို လူတို့မမြင်နိုင်ကုန်ဟု ရေးသား ဖော်ပြခဲ့သည်။

သီပေါမင်း ပါတော်မူပြီးနောက် (၂၈) နှစ်အကြာ (ယခု ၁၃၆၈-ခုဖြစ်၍) လွန်ခဲ့သော နှစ်ပေါင်း (၁၀၀) က မင်းနေမျိုးသူရိန်ရန်အောင်ဘွဲ့ခံ စာရေးတော်ကြီး ဦးထွန်းအောင်၏ အလောင်းတော်ကဿပ ဒေသအပေါ် အသေးစိတ်အမြင်ဖြစ်၏

## "သဘာဝ ကျောက်လိုဏ်ဂူတော်ကြီး"

အလောင်းတော်ကဿပ အစစ်ရှိရာသို့ ဖူးမျှော်ရန် ပေတစ်ရာကျော် အနက်ရှိသော ကျောက်တောင် ချောက်ကမ္ဘားကို မတ်စောက်စွာ ဆင်းရသည်။ အောက်လိုဏ်ဂူတွင်းရှိ ကျောက်ပန်း၊ ကျောက်ခက်၊ ကျောက်နို့ကြီးများမှာ အံ့မခန်း အဆန်းတကြယ် သဘာဝအလျောက် ဖြစ်ပေါ်နေကြသည်။

အောက်တွင်ရှိသော စမ်းချောင်းလေးသည် အလွန်အေးစိမ့်လျှက်ရှိသည်။ ယခုအခါ နွေရာသီတွင် ရေအနည်းငယ်သာ ရှိတော့သည်။ စမ်းချောင်းကမ်းပါး ကျောက်နံရံများရှိ ကျောက်နို့ကြီးများမှ သဘာဝအလျောက် ကျောက်စက်ရေတို့က အဆက်မပြတ် တပေါက်ပေါက် တဖြောက်ဖြောက် ကျနေကြသည်။

ထိုကျောက်ရေစက်များကို အဓိဋ္ဌာန်ဖြင့် ရောဂါကင်းရန်၊ ဘေးကင်းရန်၊ မျက်နှာပွင့်ရန် စတီသောက်သုံးခြင်း မျက်နှာပြင်ကို ပွတ်သပ်လိမ်းခြင်းများ ဘုရားဖူးလာသူတို့ ယုံကြည်စွာ ပြုလုပ်ကြသည်။

ကျောက်နံရံတစ်ဘက်တွင်မူ လိုဏ်ဂူအဝ အကျယ် (၁၅) ပေကျော်၊ အမြင့်ပေ (၂၀) ခန့်ရှိသည့် သဘာဝကျောက်လိုဏ်ဂူကြီးရှိ၏။ ကျောက်လိုဏ်ဂူကြီး၏ အဝကို ပြင်ညီ



ကျောက်ဖျာကြီး ပိတ်ထားသကဲ့သို့ရှိသည်။ သဘာဝကျောက်လိုဏ်ဂူကြီးကား ထိုကျောက်ဖျာကြီးမှာပင် ဆုံးနေသကဲ့သို့ရှိ၏၊ သို့သော် ထိုနေရာကား လိုဏ်ဂူကြီး၏ အဆုံးမဟုတ်။ အရှင်မဟာကဿပ အလောင်းတော်အစစ်ရှိရာ လိုဏ်ဂူကြီး၏အဝ၊ အစသာဖြစ်သည်။ ထိုပိတ်ဆို့ထားသော ကျောက်ဖျာကြီး၏ နောက်ဘက်တွင် အရှင်မဟာကဿပ၏ အလောင်းတော် အစစ်ရှိသည်ဟု ယုံကြည်စွာဖူးမျှော်ကြသည်။ လိုဏ်ဂူအတွင်းဘက်ရှိ အရှင်မဟာကဿပအား ရည်မှန်း၍ လိုဏ်ဂူအဝကို ရွှေချပူဇော်ခြင်း လိုဏ်ဂူအဝ၌ တရားထိုင်ခြင်း၊ အဓိဋ္ဌာန်ပုတီးစိတ်ခြင်း၊ ပဋ္ဌာန်းရွတ်ပူဇော်ခြင်း စသည် ပြုလုပ်ကြပါသည်။

## "အတိတ်သမိုင်း တစ်ပိုင်းတစ်စ"

ပါရမီဖြည့်စ၊ နုစဉ်ကာလ၊ တစ်ဘဝက ဂေါတမဘုရား အလောင်း အရိမေတ္တေယျ ဘုရားအလောင်း အရှင်မဟာကဿပ အလောင်းတို့သည် ညီနောင် ( ၃ ) ပါး ဖြစ်ခဲ့ကြသည်။

ပဒုမုတ္တရဘုရားထံမှ နိယတဗျာဒိတ်ခံယူပြီးနောက် ထိုညီနောင်သုံးပါးတို့သည် တောထွက်၊ ရသေ့ဝတ်၊ ဈာန်တရားရအောင် ကျင့်ပြီးလျှင် ကောင်းကင်ခရီးဖြင့် ဒေသစာရီ လှည့်လည်တော်မူကြယင်း၊ သလ္လာဝတီ (ချင်းတွင်း) မြစ်အနောက်ဘက် ဝေဘူလ၊ ဝေဘာရ၊ သုနန္ဒ တောင်သုံးလုံးဆုံရာ ယခုအလောင်းတော်ကဿပ မြေသို့ ရောက်လာခဲ့ကြသည်။

ထိုနေရာ၌ တရားကျင့် သီတင်းသုံးနေကြသောအခါ "နောင်တော်ကြီး (ဂေါတမဘုရား) ဘုရားဖြစ်၍၊ ညီငယ် (အရှင်မဟာကဿပ) က ရဟန္တာဖြစ်ပြီးလျှင် နောင်တော်အကြီး ပရိနိဗ္ဗာန်ဝင်စံသောအခါ ညီငယ်က သင်္ဂြိုဟ်မှသာ တေဇောဓါတ် လောင်ကျွမ်းပါစေသား။ ညီငယ် (အရှင်မဟာ



ကဿပ) ပရိနိဗ္ဗာန်ဝင်စံခဲ့သော် နောင်တော်အငယ် (အရိမေတ္တေယျဘုရား) က သင်္ဂြိုဟ်မှသာ တေဇောဓါတ်လောင်ကျွမ်းပါစေသား" ဟု ကတိသစ္စာ ထားခဲ့ကြလေသည်။

ထို ထားခဲ့သည့် ကတိသစ္စာအတိုင်း နောင်တော်အကြီး ဂေါတမမြတ်စွာဘုရားသည် သက္ကရာဇ် (၁၄၈) ခု၊ ကဆုန်လပြည့်၊ အင်္ဂါနေ့တွင်၊ ကုသိနာရုံ မလ္လာမင်းတို့၏ အင်ကြင်းရဂုံတွင် မြောက်သို့ ဦးခေါင်းပြု၍၊ ပရိနိဗ္ဗာန်ဝင်စံတော်မူသောအခါ စန္ဒကူးထင်းပုံထက်သို့တင်၍ အလောင်းတော်ကို မီးသင်္ဂြိုဟ်ကြသော်လည်း လောင်ကျွမ်းခြင်းမရှိပဲ အရှင်မဟာကဿပ တပည့်ရဟန်းငါးရာနှင့်ကြွ၍ ပူဇော်ပြီးမှသာ တေဇောဓါတ် လောင်ကျွမ်းတော်မူလေသည်။

သို့ဖြစ်၍ နောင်တော်အကြီးနှင့်ထားခဲ့သော ကတိသစ္စာမှာ ပြည့်စုံခဲ့ပေပြီ၊ နောင်တော်အငယ် (အရိမေတ္တေယျဘုရား) နှင့်ထားခဲ့သော ကတိသစ္စာမှာ ကျန်နေသေးသည်။ ထို့ကြောင့် အရှင်မဟာကဿပသည် နောင်တော်အငယ် (အရိမေတ္တေယျ ဘုရားအလောင်း) နှင့် ထားရှိခဲ့သည့် ကတိသစ္စာအတိုင်း ပြည့်ဝရလေအောင် အတိတ်ဘဝ ဈာန်ရစဉ်က တောဝင်ကျင့်ခဲ့သည့် ဤတောင်သုံးလုံးဆုံရာမြေတွင် အရှင်မဟာကဿပ ပရိနိဗ္ဗာန်ပြုခဲ့လေသည်။

အရှင်မဟာကဿပ၏ အလောင်းတော်သည် နောင်တော်အငယ် (အရိမေတ္တေယျ) ဘုရားဖြစ်သောအခါ မီးသဂြိုဟ်မှသာ တေဇောဓာတ် လောင်ကျွမ်းမည်ဟု သမိုင်းက ဆိုပါသည်။

ထို့ကြောင့် ညီနောင်သုံးပါး ကတိသစ္စာပြုခဲ့ကြသည့် အတိုင်း ယခုတိုင် တည်ရှိနေစေရန် အဓိဋ္ဌာန်ပြုထားခဲ့သော အရှင်မဟာကဿပ၏ အလောင်းကို "အလောင်းတော် ကဿပ" ဟု ခေါ်ဆိုကြခြင်း ဖြစ်ပါသည်။



## "အရှင်မဟာကဿပ"

အရှင်မဟာကဿပသည် ဂေါတမမြတ်စွာဘုရား သာသနာတော်တွင် ထင်ရှားသော မဟာသာဝကကြီးတစ်ပါး ဖြစ်သည်။ အရှင်သာရိပုတ္တရာ အရှင်မဟာမောဂ္ဂလာန်တို့ နှစ်ပါးပြီးလျှင် အရှင်မဟာကဿပသည် သုံးပါးမြောက်ဖြစ်၍ တတိယ မဟာသာဝကကြီးဟု ထင်ရှားသည်။ ဓူတင် (၁၃) ပါး လုံးကို သက်တော် (၁၂၀) သိက္ခာဝါ (၅၀) ပရိနိဗ္ဗာန်ပြုသည် အထိ တစ်သက်တာလုံး ဖြည့်ကျင့်တော်မူခဲ့သဖြင့် ဓူတင် ဆောင် ဧတဒဂ် ရရှိတော်မူခဲ့သည်။

အရှင်မဟာကဿပ အလောင်းအလျာ ပိပ္ပလိလုလင် နှင့် ဘဒ္ဒကာပိလာနီ ဇနီးမောင်နှံတို့ အိမ်ရာတည်ထောင်၊ လူဘောင်စွန့်ခွာ၊ အဝါရေဆင်မြန်း၊ ရဟန်းပြုတောထွက်လာ ကြရာ ပါရမီရှင်နှစ်ဦး လမ်းခွဲကြသောအခါတွင် မြေကြီးတုန် ဟီး၍ ကောင်းချီးပေးခြင်းကို ခံခဲ့ကြရသည်။ (ပထမထူးခြား ချက်)။

ဘုရားရှင်သည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ စံနေတော်မူရင်းပင် ပါရမီရှင်နှစ်ဦး လမ်းခွဲသဖြင့် သော်လဲ ပွဲတင် မြေလျှင်တုန်ဟီး ကောင်းချီးပေးသံကို ကြားတော်မူရာ

ပိပ္ပလိလုလင်၏ ပါရမီအဟုန်ကို အကုန်အစင်သိမြင်တော်မူလေသည်။

“ပိပ္ပလိလုလင် ရဟန်းပြုလာခြင်းသည် ငါဘုရား၏ သာသနာအတွက် အားကိုးထိုက်သူ၊ ငါဘုရားနှင့်အတူထား၍ ချီးမြှောက်ထိုက်သူ ဖြစ်လတ့်” ဟု သိတော်မူ၍၊ ရာဇဂြိုဟ်ပြည်နှင့် နာလန္ဒမြို့အကြား ဗဟုပုတ္တက ညောင်ပင်ရင်း၀ယ် ရောင်ခြည်တော်ခြောက်သွယ်ကို ကွန့်မြူးလျက် စောင့်စားနေတော်မူသည်။



ပိပ္ပလိလုလင်သည် ဘုရားရှင်ကို မြင်ရသောအခါ “ဤအရှင်ကား သုံးလောက၌ အတုမရှိသော ဘုရားရှင်သာ ဖြစ်ရပေမည်။ ဤဘုရားအား ရည်မှန်း၍ ငါရဟန်းပြုလာခဲ့ပေသည်” ဟု ကြည်လင်သောစိတ်ဖြင့် ဦးထိပ်တွင် လက်စုံမိုးလျက် “သတ္ထာ မေ ဘန္တေ ဘဂဝါ သာဝကော ဟမသ္မိ” “ဘုန်းတော်ကြီးသော မြတ်စွာဘုရား --- အရှင်ဘုရားသည် တပည့်တော်၏ဆရာ ဖြစ်တော်မူပါဘုရား၊ တပည့်တော်သည် အရှင်ဘုရား၏ တပည့်သာဝက ဖြစ်ပါရစေဘုရား---” ဟု လျှောက်ထားသည်။

မြတ်စွာဘုရားသည် မိစဥ်ဘရိုး အမျိုးတို့၏ဂုဏ်နှင့် ပြည့်စုံသောအမည်ကို ခေါ်လိုသည်ဖြစ်၍



"ချစ်သားကဿပ သင်၏လေးစားပူဇော်မှုသည် ဤမြေပြင်ကို ပြုမိပြားအံ့၊ နှစ်သိန်းလေးသောင်း ပေါင်းထုရှိရာ မြေအလွှာသည် မွှမ်မှုံညက်ညက် ပြိုပျက်သွားရာ၏။ သုံးပါးသောသိက္ခာဖြင့် နှိုင်းရာမမြင် ငါဘုရားရှင်သာလျှင် ခံယူနိုင်စွမ်းရှိသည်။ ချစ်သားကဿပ ငါဘုရားသာသနာတွင်နေလော သင့်အား လောကုတ္တရာတရားအမွေကို ငါပေးဝေအံ့" ဟု မိန့်တော်မူလျှက် သြဝါဒ ပါတိမောက်ဂါထာသုံးပုဒ်ကို ဟောတော်မူ၍ မြင့်မြတ်သော ရဟန်းအဖြစ်သို့ ရောက်စေတော်မူခဲ့လေသည်။

ရဟန်းပြုခြင်း ဥပသမ္ပဒရှစ်မျိုးတို့တွင် ဤသာသနာတော်၌ အရှင်မဟာကဿပ တစ်ပါးသာ သြဝါဒပဋိဂ္ဂဟဏူပသမ္ပဒါ - သြဝါဒခံယူရုံမျှဖြင့် ရဟန်းဖြစ်ခဲ့ရပါသည်။ ဤကား ဒုတိယ ထူးခြားချက်ဖြစ်၏။

အရှင်မဟာကဿပ ရဟန်းဖြစ်ပြီးနောက် ဘုရားရှင်သည် ပဏ္ဍာသမဏ (နောက်ပါရဟန်း) အရှင်မဟာကဿပနှင့်အတူ ဝေဠုဝန်ကျောင်းသို့ ပြန်ကြွတော်မူလာရာ လမ်းခရီးအကြား တစ်ခုသောသစ်ပင်ရိပ်ဝယ် မြတ်ဘုရား နားလိုသော အခြင်းအရာကို သိတော်မူ၍ အရှင်မဟာကဿပသည် ပခုံးထက်တင်လာသော အသပြာတစ်ထောင်တန် ကမ္ဗလာ

ဒုကုဋ် နှစ်ထပ်သင်္ကန်းကြီးကို လေးထပ်ခေါက်၍ ခင်းပေးတော်မူသည်။

မြတ်စွာဘုရားသည် ဒုကုဋ်သင်္ကန်းကြီးအခင်းပေါ်ဝယ် ထိုင်တော်မူယင်း "သင်၏ ဒုကုဋ်သည် အလွန်နူးညံ့ပေစွ"ဟု လက်တော်ဖြင့်သုံးသပ်၍ ချီးမွမ်းတော်မူသည်။ အရှင်မဟာကဿပလည်း မွန်မြတ်သော ဤနှစ်ထပ်သင်္ကန်းကို မြတ်ဘုရား အလိုရှိဟန်တူသည်၊ ငါလှူဒါန်းအံ့ဟု သင်္ကန်းကို ယူ၍ လှူတော်မူသည်။ မြတ်စွာဘုရားသည် အလှူခံယူ၍ မိမိပခုံးထက်မှ ပိုက်ဆံလျှော်ဖြင့် ရက်အပ်သော ပံ့သကူဒုကုဋ်သင်္ကန်းကြီးကို အရှင်မဟာကဿပအား ပေးသနားတော်မူလေသည်။

ထိုပံ့သကူဒုကုဋ်သင်္ကန်းသည် သာမညသင်္ကန်းမဟုတ်၊ ပုဏ္ဏကျွန်မ အလောင်းကောင်မှ ပိုးလောက်တဖွားဖွားဖြင့် မြတ်ဘုရားကိုယ်တိုင် ပံ့သကူကောက်ယူခဲ့စဉ်က မြေကြီးတုန်ဟီး ကောင်းချီးပေးခြင်းခံခဲ့ရသော ဝိသေသ သင်္ကန်းဖြစ်သည်။

အနာဂါတ် သာသနာတော်တွင် ငါဘုရားကဲ့သို့ ရဟန်းများကို ဆုံးမသွားရန် ကိုယ်စားတော်အရာထားသောအားဖြင့် ဘုရားရှင်ဝတ်ရုံသော ဒုကုဋ်သင်္ကန်းကြီးကို ချီးမြှင့်ခဲ့ရသူမှာ



ဤသာသနာ၌ အရှင်မဟာကဿပတစ်ပါးသာ ရှိခဲ့ပါသည်။ ဤသို့လျှင် ဘုရားရှင်နှင့် အရှင်မဟာကဿပတို့ ဒုကုဋ်သင်္ကန်းချင်း လဲလှယ်တော်မူသောအခါမှာလည်း မဟာမြေကြီးသည် အိုးထိန်းစက်ပမာ သွက်သွက်ခါတုန်ဟီး၍ ကောင်းချီးပေးတော်မူခဲ့လေသည်။ (ဤကား - တတိယထူးခြားချက်)

ဘုရားရှင် ပရိနိဗ္ဗာန်ပြုတော်မူသောအခါ အရှင်မဟာကဿပကိုယ်တော်တိုင် တပည့်ရဟန်းငါးရာနှင့်အတူ ကြွလာ၍ ပူဇော်တော်မူမှသာ တေဇောဓာတ်လောင်ကျွမ်းတော်မူသဖြင့် မဟာပထဝီမြေကြီး ကောင်းချီးပေးတုန်လှုပ်ခဲ့သည်မှာလည်း စတုတ္ထ ထူးခြားချက်ပင်ဖြစ်သည်။

အရှင်မဟာကဿပသည် ဘုရားရှင်ပရိနိဗ္ဗာန်ပြုတော်မူပြီးစတွင် သုဘဒ္ဒရဟန်းကြီး၏စကားကိုကြား၍ ဓမ္မသံဝေဂရကာ သတ္တပဏ္ဏလိုဏ်ဂူအနီးတွင် ပထမသံဂါယနာ တင်တော်မူခဲ့သည်။

ထို့နောက် နောင်အနာဂါတ်တွင် အသောကမင်းသည် ဓါတ်တော်များကို တူးဖော်၍ ဇမ္ဗူဒိပ်ကျွန်းအနှံ့ စေတီတည်ထားကိုးကွယ်နိုင်ရန် ဘုရားရှင်၏ ဓါတ်တော်များကို စုစည်းပင့်ဆောင်ကာ ဓါတ်တော်တိုက်ခန်းများအတွင်း သိုမှီးသိမ်းဆည်းပြီးသောအခါ အရှင်မဟာကဿပသည် ဘုရား

ပရိနိဗ္ဗာန်ပြုသွားပြီးသည့်နောက် သာသနာတော်နှစ် ( ၆ ) နှစ်၊ ဘိုးတော် အဥ္ဇနမင်း ဖြိုခွင်းသော ကောဇာသက္ကရာဇ် (၁၅၄) ခုနှစ်၊ တပို့တွဲလပြည့်၊ အင်္ဂါနေ့၊ နံနက် (၆) နာရီအချိန် သက်တော် (၁၂၀)၊ သိက္ခာတော် (၅၀) ဝါအရတွင် ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့လေသည်။



## "အလောင်းတော်ကဿပ ရှင်းတမ်း"

အရှင်မဟာကဿပ ပရိနိဗ္ဗာန်ဝင်စံသည့်အကြောင်း ကို ထေရဝါဒ ပိဋကတ်ကျမ်းတို့၌ ဘယ်နေရာဒေသတွင် ပရိနိဗ္ဗာန်ဝင်စံကြောင်း နေရာဒေသ အတိအကျဖော်ပြထား ခြင်း မရှိပေ။

ပရိနိဗ္ဗာန်ပြုကြောင်းကို သုတ်မဟာဝါအဋ္ဌကထာ မဟာပရိနိဗ္ဗာနသုတ်အဖွင့်၌ - "ဧဝံ နိဋ္ဌိတေ ဓာတု နိဓာနေ ယာဝတာယုကံ ဌတွာ ထေရောပိ ပရိနိဗ္ဗုတော" . . . ဟုသာ အကျဉ်းရုံး ဖော်ပြထားသည်။

"ဘုရားရှင်ဓာတ်တော်များကို သိုမှီးသိမ်းဆည်းပြီးသော် အသက် ၁၂၀ ရှိပြီဖြစ်သော အရှင်မဟာကဿပလည်း ပရိ နိဗ္ဗာန်ပြုတော်မူသည် . . . " ဟု ဆိုလိုပါသည်။

အရှင်မဟာကဿပသည် သာမဥ္ဈောင်ညမဟုတ်၊ ထူးခြားမှုများစွာဖြင့် သာသနာတော်မှာ ထင်ရှားသော အရှင် မြတ်ကြီးဖြစ်သည်။ ဘုရားရှင်၏ လက်ျာတော်ရံ၊ လက်ဝဲ တော်ရံ အဂ္ဂသာဝကကြီးနှစ်ပါးပြီးလျှင် သုံးပါးမြောက် တတိယ မဟာသာဝကကြီးဖြစ်သည်။ ဓုတင်ဆောင် ဧတဒဂ်ရလည်း ဖြစ်၏။

အရှင်မဟာကဿပလောက် မထင်ရှားသော၊ ထူးခြားမှုလည်းမရှိသော ရဟန္တာအရှင်မြတ်များ၏ ပရိနိဗ္ဗာန်ဝင်စံပုံကို အဋ္ဌကထာဆရာများ အသီးသီးဖွင့်ပြနိုင်ကြပါလျှက် ဤအရှင်မဟာကဿပ၏ ပရိနိဗ္ဗာန်စံခန်းကို အဋ္ဌကထာဆရာတို့ ဖွင့်မပြနိုင်ခဲ့ခြင်းသည် အကြောင်းတစ်ခု (ဝါ) မြှုပ်ကွက်တစ်ကွက် ရှိခဲ့၏။ ထိုအကြောင်း မြှုပ်ကွက်ကို ထီးချိုင့်မြို့ တည်တောဆရာတော်ဘုရားကြီးက ထုတ်ဖော်ပြခဲ့သည်။

ရှင်းပါမည်။

အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ - မြန်မာစာ ဩဝါဒါစရိယ - ထီးချိုင့်မြို့ တည်တောဆရာတော်ဘုရားကြီး ဘဒ္ဒန္တဒေဝိန္ဒာဓိပတိသည် မျက်မှောက်ခေတ် လစဉ်ထုတ် ဘာသာရေးစာစောင်များတွင် ကလောင်အမျိုးမျိုးဖြင့် စာအရေးနိုင်ဆုံးသော ဆရာတော်ဖြစ်သည်။ လောကီ၊ လောကုတ္တရာ စွယ်စုံတော်သော ဆရာတော်လည်းဖြစ်၏။ ထို တည်တောဆရာတော်ဘုရားကြီး၏ အယူအဆမှာ ဤသို့ဖြစ်သည်။

အရှင်မဟာကဿပသည် ဘုရားပွင့်ရာ မဇ္ဈိမဒေသမှာပင် အခြားရဟန္တာများကဲ့သို့ ပရိနိဗ္ဗာန် ဝင်စံခဲ့လျှင် အကြောင်းစုံသိရသဖြင့် အဋ္ဌကထာဆရာများ ဖွင့်ပြနိုင်ကြမည်ဖြစ်သည်။



အရှင်မဟာကဿပ မှာမူကား မဇ္ဈိမဒေသမှ မြန်မာနိုင်ငံအတွင်း ယခု အလောင်းတော်ကဿပရှိရာ မဟာမြိုင်တောကြီးသို့ တစ်ပါးတည်းကြွတော်မူကာ ပရိနိဗ္ဗာန်ဝင်စံခဲ့၍သာ အဋ္ဌကထာဆရာတို့ ဖွင့်မပြနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

ထို့ကြောင့် အရှင်မဟာကဿပ မြန်မာနိုင်ငံ မဟာမြိုင်တောကြီးအတွင်း ယခု အလောင်းတော် ကဿပနေရာတွင် ပရိနိဗ္ဗာန်ဝင်စံခဲ့သည်မှာ အမှန်ပင်ဖြစ်မည်ဟု ယူဆကြောင်း တည်တောဆရာတော်ဘုရားကြီး၏ လက်ရေးမူ အလောင်းတော်ကဿပသမိုင်းတွင် ဖော်ပြထားသည်။

ထီးချိုင့်မြို့ တည်တောဆရာတော်ဘုရားကြီး၏ ယုတ္တိရှိသော ဤယူဆချက်ဖြင့် အလောင်းတော်ကဿပဟူသည် အရှင်မဟာကဿပ ရဟန္တာ မထေရ်မြတ်ကြီး၏ အလောင်းတော်ဖြစ်ကြောင်း သိသာထင်ရှားသွားတော့သည်။

အရှင်မဟာကဿပ မထေရ်သည် ရာဇဂြိုဟ်ပြည် ဝေဘာရတောင်တွင် ပရိနိဗ္ဗာန်ပြုကြောင်း - ကဿပသံယုတ် အဋ္ဌကထာကို ကိုးကားရေးသားကြ၏။ အဆိုပါ ကဿပသံယုတ်အဋ္ဌကထာတွင်မူကား အရှင်မဟာကဿပ ပရိနိဗ္ဗာန်ပြုကြောင်း အရိပ်အမြွက်မျှ မပါရှိချေ။ (အရှင်ကဝိန္ဒ(ပုပ္ပား)၏ အလောင်းတော်ကဿပ သမိုင်းသစ်မှ ရှင်းတမ်း)

## "အားလုံး၏ယုံကြည်ချက်"

ခေတ်အဆက်ဆက် စာပေတတ်သိ ကဝိအကျော် ဆရာတော်ဘုရားကြီးများနှင့်တကွ ဘုရားဖူးသူတော်စင်များ သည် -

၁၁၅၄-ခု၊ တပေါင်းလတွင် အလောင်းတော်ကဿပ သို့ အဖူးအမြော်ရောက်ခဲ့သော အတုလဆရာတော်အကြောင်း ရေးထိုးထားသော ကျောက်စာ။

၁၁၆၄-ခု တန်ခူးလဆန်း ၁၅-ရက်နေ့တွင် ဘိုးတော်ဘုရားက အရှင်မဟာကဿပ အာရာမ်စောင့် ကပိုင်ရွာအကြီး ထောင်မှူးမြေတ်သူ၊ မြောင်းကြီးရွာသူကြီး ငစံသူတို့ကို မေးမြန်းသဖြင့် ထွက်ဆိုလျှောက်ထားခဲ့သော ဘိုးတော်စစ်တမ်း။

အိန္ဒိယဒေသ၊ မဏိပူရ၊ အာသန်၊ စစ်တကောင်းမှ မြန်မာနိုင်ငံအတွင်းသို့ အရှင်မဟာကဿပ ကြွတော်မူရာလမ်း၌ တောင်သူကြီး ဦးကောင်းစင် တောင်းပန်၍ ချထားခဲ့သော ခြေတော်ရာ (အလျား ၃၂-လက်မ၊ ခြေဖျားတော်ဗျက် ၁၅-လက်မ၊ ဖနောင့်ဘက်ဗျက် ၂၀-လက်မခွဲ)။

အရှင်မြတ် ချောင်းအတိုင်း စုန်၍ကြွရာနေရာ ဘုရားထွက်ချောင်း။ မြစ်ကူးရန် ချေသူငယ်နှာရောင်စင်းပြသည့် ချောင်း၊ ချေနှာရောင်ချောင်း။ မထေရ်ရဲ ဒီဘက်လှည့်လာသည့်



နဂါးရုံဘုရား



အရှင်မဟာကဿပ

နေရာ၊ မထေရ်ဒီလှည့် (ယခု မထိဒလီရွာ)။ သပိတ်ပွေ့လျက် ကြွ၍ ပွေ့လျက်ရွာ (ယခု ပွေ့ညက်ရွာ)။ အရှင်မြတ်အား ဒကာများ ဝပ်လျှိုးကန်တော့သည့်ကုန်း၊ ဝပ်လျှိုးကုန်း (ယခု ဝက်တိုးကုန်း)။ တစ်အောင့်အပန်းဖြေရာနေရာ၊ တစ်အောင့်ရွာ (ယခု တောင်အောက်ရွာ)။ တပည့် ရဟန်းငါးရာသိစေရန် စာရေးသားထားခဲ့သည့်နေရာ၊ အောက်စာသား (ယခု အောက်စသာရွာ)။ အထက်စာသား (ယခု အထက်စသာရွာ)။ မိုးမလင်းမီ ရောက်သောနေရာ၊ လင်းလူရွာ။ ဆွမ်း၊ ဆွမ်းဟင်းတို့ကို ဖက်နှင့်ထုပ်၍ လှူသောနေရာ ဖက်ထုပ်ရွာ။ သင်္ကန်းလှန်းသောတောင်တန်းကို သင်္ကန်းတန်း။ သပိတ်ဆေးသည့်ချောင်းကို သပိတ်ဆေးချောင်း။ (ကျောက်ခဲလေးများ ဆွမ်းလုံးပုံသဏ္ဍာန် ထိုချောင်းမှာ ယခုထိရှိသည်။) သင်္ကန်းအခန်းရာများ အနားပတ်ရာများ ယခုတိုင် ထင်ထင်ရှားရှား ထင်ကျန်နေသော သင်္ကန်းလှန်းကျောက်ဖျာ စသည်များ။

အဇာတသတ်မင်း အရှင်မဟာကဿပအား လိုက်ရှာသော ခရီးလမ်း၌ မင်းဝင်ချောင်း၊ မြပန်းကန်အင်း၊ ဆင်ဖမ်းကျွန်း၊ မြင်းဇက်ပုံချောင်း စသည့် သမိုင်းမှတ်တိုင်များ၊ အဇာတသတ်မင်းတည်သွားသော ဆုတောင်းပြည့်စေတီ၊ လွှမ်းစေတီဘုရားများ။ လက်ထဲရှိလုံ့ကို မြေသို့စိုက်လျှက် ငါ

ဆရာ အရှင်မဟာကဿပ၊ ဤဌာန၌ ပရိနိဗ္ဗာန်ပြုရိုးမှန်ခဲ့သော် ငါ့ဆရာ၏ ရုပ်ကလာပ်ကို ငါဖူးရရိုးမှန်ခဲ့သော် လှုံစိုက်သောမြေမှ ရေလျှံထွက်၍ ငါ့ဆရာပရိနိဗ္ဗာန်ပြုရာဌာနသို့ စီးဆင်းသွားပါစေသား . . . ဟု သစ္စာဓိဋ္ဌာန်ပြုသည့်အတိုင်း ဖြစ်လာသော သစ္စာရေတွင်း စသည်များသည် ယခုတိုင် အထင်အရှား ရှိနေကြသဖြင့် အရှင်မဟာကဿပ အစစ်ဖြစ်ကြောင်း ခိုင်လုံသော အထောက်အထားများအဖြစ် ယူဆကြပြီး အရှင်မဟာကဿပ ရဟန္တာမထေရ်မြတ်ကြီးအဖြစ်ဖြင့်သာ ယုံကြည်စွာ လာရောက် ဖူးမျှော်နေကြခြင်းဖြစ်သည်။

(အရှင်မဟာကဿပအား အဇာတသတ်မင်းဆင်တပ်၊ မြင်းတပ်ဖြင့် လိုက်ရှာသောသမိုင်းသည် အိန္ဒိယနိုင်ငံ အဇာတသတ်မင်း စစ်ချီခန်းသမိုင်းမှတ်တမ်း၌ အထင်အရှားရှိကြောင်း ၂၀၀၂-ခုနှစ်၊ အလောင်းတော်ကဿပ ဂေါပကအဖွဲ့၏ နိုင်ငံတော်အကြီးအကဲများ ခရီးစဉ်တွင်တင်ပြသော စာအုပ်ငယ်၌ ဖော်ပြထားပါသည်။)



## “အရှင်မဟာကဿပ လှူရကျိုး”

အရှင်မဟာကဿပ မထေရ်မြတ်ကြီးသည် အရည ကင်း ဓုတင်ဆောင်ပုဂ္ဂိုလ်ဖြစ်၍ တော၌သာ တရားဖြင့်မွေ့လျော်တော်မူသည်။ တစ်ခါတစ်ရံ နိရောသမာပတ် ဝင်စား၍ ဆင်းရဲသားများကို ကယ်တင်တော်မူလေ့ရှိသည်။

သာသနာပကာလ၌ ပြုလုပ်ခဲ့သော ဒါနကြောင့် အခြားနတ်များနှင့် နှိုင်းစာလျှင် ဆင်းရဲနေရှာသော သိကြားမင်းသည်ပင်လျှင် ဆင်းရဲသား သူအိုလင်မယားအယောင်ဆောင်၍ ဆွမ်းခိုးလောင်းခဲ့ရာ ချက်ချင်း ချမ်းသာသွားခဲ့ရသည်။

တစ်ခါသော် - အရှင်မဟာကဿပသည် သူတောင်းစားမကြီးအား အပါယ်ဘေးမှကယ်တင်လို၍ ထမင်းချိုးနှင့် ဟင်းသိုးများကို အလှူခံဘုဉ်းပေး ချီးမြှောက်ခဲ့ရာ ထိုကောင်းမှုကြောင့် သူတောင်းစားမကြီးခမျာ နိမ္မာနရတိ နတ်ဘုံရောက်ခဲ့ရသည်။

ရာဇဂြိုဟ်ပြည်၌ အလွန်ဆင်းရဲသော ကာကဝဠိယလင်မယားရှိ၏။ ထမင်းချက်မစားနိုင်၍ ဆံပြုတ်ကို ဟင်းရွက်နှင့် ရောကျိုကာ စားရရှာသည်၊ တစ်နေ့၊ အရှင်မဟာကဿပ နိရောသမာပတ်မှ ထတော်မူစ ချီးမြှောက်ရမည့်သူကို ဉာဏ်ဖြင့် ဆင်ခြင်ကြည့်လိုက်ရာ ထိုလင်မယား ဆင်းရဲလွန်းသည်ကို

မြင်၍ ကယ်တင်ရန် ဆွမ်းခံကြွသည်။

ကာကဝဋိယ၏ ဇနီးသည် အရှင်မြတ်၏ သပိတ်ကိုယူ၍ ဟင်းရွက်နှင့်ရောကျိုထားသော ဆံပြုတ်ကို တစ်အိုးလုံး သပိတ်တွင်းသို့ မှောက်ထည့်ကာ အရှင်မြတ်အား ကပ်လှူသည်။ လင်မယားနှစ်ယောက်စာ ကျိုထားသော ဆံပြုတ်၊ ကိုယ့်ဖို့မချန်ပဲလှူသော နိရဝသေသဒါန ဖြစ်သည်။ အရှင်မြတ်သည် ကျောင်းသို့ပြန်၍ ဆံပြုတ်သပိတ်ကို ဘုရားရှင်အား ဆက်ကပ်သည်။ ကာကဝဋိယတို့ လင်မယားအငတ်ခံလှူသော ကုသိုလ်စေတနာကြောင့် ဘုရားရှင်နှင့် ရဟန်းငါးရာ ဘုဉ်းပေးသော်လည်း သပိတ်ထဲရှိ ဆံပြုတ်မှာ မကုန်ခဲ့ပေ။

ဆံပြုတ်ကုသိုလ်ရှင်ရမည့်အကျိုးကို ဘုရားရှင်အား လျှောက်ထားရာ နောင်ခုနှစ်ရက်ကြာလျှင် သူဌေးကြီးဖြစ်လိမ့်မည်ဟု မိန့်ကြားသည့်အတိုင်း ခုနှစ်ရက်အကြာမှာ ဒီဃတာလ ဘီလူးထံမှ ရွှေအိုး (၇) လုံး၊ သုမနနတ်မင်းကြီးထံမှ သစ်ပင်ရိပ်ကျရာအရပ်ပတ်ပတ်လည်ရှိ ရွှေအိုးပေါင်းများစွာကို လက်ဆောင်ရ၍ ဓနသေဋ္ဌိဘွဲ့ဖြင့် အမိတဘောဂသူဌေးကြီး ဖြစ်ခဲ့ရသည်။

တစ်နေ့၊ အရှင်မဟာကဿပသည် ရွာတွင်းသို့ ဆွမ်းခံကြွလာရာ ကုဋ္ဌနူနာသည်အား ချီးမြှောက်လို၍ ထိုနူနာသည်



၏ ဆွမ်းကို အလှူခံဖူးသည်။ ဆွမ်းလောင်းထည့်လိုက်သော အခါ ထိုနူနာရှင်၏ လက်ချောင်းများမှာ သွေးပြည်ယိုစီး၍ ပုပ်ပွဆွေးမြည့်နေသဖြင့် သပိတ်ထဲမှာပင် လက်ချောင်းပြတ်ကျ ကျန်ခဲ့သည်။

အရှင်မဟာကဿပလည်း မြင်၏၊ နူနာရှင်လည်း သိသည်၊ အရှင်မြတ်သည် ထိုဆွမ်းဒကာ နူနာရှင်စေတနာ ပွားရန် ထိုအိမ်နံရံခြေ၌ပင် ကျောမှီထိုင်၍ ဆွမ်းထဲမှ လက်ချောင်းပြတ်ကလေးကိုဖယ်ကာ ဖယ်ကာ မြိန်ယှက်စွာ ဘုဉ်းပေးချီးမြှောက်တော်မူရှာသည်။ သူလိုကိုယ်လို ပုထုဇဉ် တို့အဖို့ အူထွက်ကျလောက်အောင် ပျို့အန်ပေလိမ့်မည် ဟု အဌကထာဆရာမှတ်ချက်ချရအောင်ပင် ဆင်းရဲသားများကို ချီးမြှောက်တော်မူခဲ့သည်။ တစ်ဘက်သား အကျိုးရှိ၍ ကောင်း စားမည်ဆိုလျှင် အံ့ဖွယ် ချီးမြှောက်တော်မူသော အရှင်မြတ် ဖြစ်သည်။

ဓူတင်တေရသ်၊ အကျင့်မြတ်ကို၊ မပြတ်ကျင့်သုံး၊ ထေရ် အားလုံးတွင်၊ ထိပ်ဆုံးမြတ်လှ၊ အရှင်မဟာကဿပအား လှူဒါန်းပူဇော် ဖူးမျှော်ဆည်းကပ်ရသောအကျိုးကား တန်ဖိုး ကြီးပါပေစွ . . .။ ထေရဝါဒပိဋကတ်တော်လာ ထိုအကြောင်း များကို သိထားကြသဖြင့်သာ အရှင်မဟာကဿပအား တော

အထပ်ထပ်၊ တောင်အသွယ်သွယ်ကျော်ဖြတ်ကာ မဟာမြိုင်တောနက်ကြီးထဲရှိ ဤအလောင်းတော်ကဿပကို လာရောက်ပူဇော် ဖူးမျှော်လှူဒါန်းကြခြင်းဖြစ်ပါသည်။



## ၂၁–ရာစု မျက်မှောက်ခေတ် အလောင်းတော်ကဿပ

နှစ်ဆယ့်တစ်ရာစု ယနေ့မျက်မှောက်ခေတ်တွင်မူ အလောင်းတော်ကဿပသည် လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်လာသည်နှင့်အမျှ တစ်နေ့တစ်ခြား စည်ကားတိုးတက်လာသည်ကို တွေ့နေရသည်။ နိုင်ငံတော်အကြီးအကဲများ၏ လမ်းညွှန်မှုဖြင့် အလောင်းတော်ကဿပ ဂန္ဓကုဋီစံကျောင်းတော်ကြီးကိုလည်း သိန်းပေါင်း (၁၀၀၀) ကျော်ကုန်ကျစေ၍ ခန်းခန်းနားနား မြန်မာမှုလက်ရာများဖြင့် ဆောက်လုပ်ပြီးစီးအောင်မြင်ခဲ့သဖြင့် (၂၅-၂-၂၀၀၅) နေ့တွင် "မင်္ဂလာဘိသေကဒက္ခိဏောဒကဒါန" မဟာမင်္ဂလာအခန်းအနားကို စည်ကားစွာ ကျင်းပခဲ့ပြီးဖြစ်သည်။

ထို့ပြင် အလောင်းတော်ကဿပသို့ ဘုရားဖူးလာရောက်ကြသော ပါရမီရှင်များအတွက် တည်းခိုနားနေရန် အဆောက်အဦးများလည်း ပြည့်စုံစွာရှိသဖြင့် ချမ်းချမ်းသာသာ တည်းခိုနိုင်ကြပါသည်။

ယခုအခါ အဆောက်အဦးပေါင်း များစွာဖြင့် အလောင်းတော်ကဿပသည် စည်ကားတိုးတက်နေပေပြီ။

ဂန္ဓကုဋီစံကျောင်းတော်ကြီး၊ ကြေးစည်ရုံအဆောင်၊ ကုန်းတော်ပေါ်တွင် နှစ်ကျိပ်ရှစ်ဆူဘုရားတန်ဆောင်းများရှိသည့်အပြင် ဘုရားဖူးရဟန်းတော်များ တည်းခိုနိုင်သည့် (၄-ပင် ၃-ခန်း) သိမ်ကျောင်း နာယကကျောင်းတော်ကြီး၊ ဘုရားဖူးများ တည်းခိုနိုင်သည့် (၄-ပင် ၃-ပင်) ဇရပ် (၂၆) ဆောင်၊ (၅-ပင် ၄-ခန်း) ဇရပ် (၄) ဆောင်၊ (၉-ပင် ၈-ခန်း) ဇရပ်ကြီး (၄) ဆောင်၊ (၇-ပင် ၆-ခန်း) ဇရပ်ကြီး (၂) ဆောင်၊ (၅-ပင် ၄-ခန်း) သံဃာဆောင် တစ်ဆောင်နှင့် သဒ္ဓါဝိကဇရပ်တစ်ဆောင် စသည်ဖြင့် ကျောင်းအထပ်ထပ်၊ ဇရပ်အဆောင်ဆောင် ရှိကြလေသည်။

လှူသူကလည်း ဆက်၍လှူဆဲ၊ အကျိုးဆောင်ဂေါပကအဖွဲ့ကလည်း ဆက်၍ဆောက်လုပ်ဆဲ အဆောက်အဦးများလည်း ရှိသေးသည်။

တည်းခိုရာဇရပ်တန်း၏အနီးတွင် စားသောက်ဆိုင်တန်းလည်း အဆင့်သင့်ရှိ၏။ တရုတ်အစားအစာ၊ ဗမာအစားအစာနှင့် အအေးမျိုးစုံ ရနိုင်ပါသည်။ ဆင်ကြီးများစီး၍ အမှတ်တရဓါတ်ပုံရိုက်လိုသူများအတွက်လည်း ကင်မရာဆရာများက အဆင်သင့်။ ရိုက်ပြီးလျှင် မကြာခင် အမှတ်တရပုံများကို ကြည့်နိုင်ကြမည်ဖြစ်ပါသည်။


ကိုးနဝင်းစေတီ


ကြာသပိတ်ဆွမ်းရွှေခံပွဲ

အိမ်မှာ ကျန်ခဲ့သူမိသားစုများ၊ မိတ်ဆွေများအတွက် အလောင်းတော်ကဿပ အပြန်လက်ဆောင်အဖြစ်၊ CD ခွေများ၊ သီချင်းတိပ်ခွေများ၊ သမိုင်းစာအုပ်များ၊ ပုံတော်များကိုလည်း ဝယ်ယူသွားနိုင်ကြပါသည်။

အလောင်းတော်ကဿပသို့ လာခဲ့ရသည့် ခရီးလမ်းတလျှောက် ဘယ်လောက်ပင် မောပန်းနွမ်းနယ်ခဲ့ရသည်ဖြစ်စေ၊ အဇာတသတ်မင်းကြီး၏ သစ္စာတန်ခိုးနှင့် အရှင်မဟာကဿပကြီး၏ မေတ္တာတော်အာနိသင်တို့ကြောင့် အလိုအလျောက် ချိုးသောက်၍မကုန်နိုင်အောင် ယခုတိုင်စီးထွက်နေသော သစ္စာရေတွင်းမှ သစ္စာရေကို သောက်လိုက်ရလျှင်၊ မေတ္တာရေတွင်းမှ မေတ္တာရေစင်ကို ချိုးလိုက်ရလျှင်၊ ဘုရားဖူးအားလုံး မောသမျှ အမောပြေကြရသည်။ ပန်းခဲ့သမျှ အပန်းပြေကြရသည်။ နွမ်းနယ်ခဲ့သမျှ လန်းဆန်းကြရသည်။

မဟာမြိုင်တောကြီးအတွင်း၌ လေးပြင်လေးရပ်၊ ခရီးတစ်သောင်း (မိုင်-၂၀) အတွင်း လူနေကျေးရွာများမရှိပဲ သားရဲတိရစ္ဆာန်များနှင့် သစ်တောကိုပါ ထိန်းသိမ်းစောင့်ရှောက်လျက်ရှိသော အမျိုးသားဥယျာဉ်၏ ဗဟိုချက်မ၊ ပုထိုးလုံးကြီးဝိုင်းအကွက်အမှတ် (၃၆) တွင် အလောင်းတော်ကဿပ တည်ရှိသဖြင့် နိုင်ငံတော်က သာသနာ့မြေအဖြစ် တင်းလွတ်ခွင့်ပြု

ထားသည့်အတွက် ငြိမ်းချမ်းနယ်မြေပင်ဖြစ်သည်။

အင်၊ ကညင်၊ ကျွန်း၊ ပိတောက်၊ သစ်ရာ၊ အင်ကြင်း ပျဉ်းကတိုး အမျိုးမျိုးသော မြန်မာ့ရတနာသစ်တောကြီးများ ဝါးရုံတောကြီးများဖြင့် စိုပြေစိမ်းလန်း စိမ့်စမ်းပေါသောနယ်မြေပင်ဖြစ်သည်။ ဖြောင့်ဖြောင့်ဖြူးဖြူး မော့်ကြည့်၍မဆုံး၊ မတ်စောက်မြင့်မားလှသည့် အပင်ကြီးများ၊ ဂမုန်းပန်းနှင့် တောပန်း၊ တောင်ပန်းများ တဝေဝေ၊ စမ်းချောင်းလေးများ တတွေတွေ စီးဆင်းလျှက် သဘာဝအလှရှုခင်းများမှာလည်း အံ့မခန်းတွေ့ကြရသည်။ ထို့ကြောင့်ပင် အချို့ဘုရားဖူးများသည် တစ်နှစ်တစ်ခေါက် (အချို့ နှစ်ခေါက်) မှန်မှန်ရောက်နေကြခြင်းဖြစ်သည်။ ရန်ကုန်မှ ဘုရားဖူး တရုတ်ကြီးဆိုလျှင် (၂၃) ခေါက် ရှိပြီဖြစ်ကြောင်း စာရေးသူအား ပြောပြဖူးသည်။



ဘုရားဖူးပါရမီရှင်များသည် အရှင်မဟာကဿပ ရဟန္တာအရှင်မြတ်ကြီးအား ဖူးမျှော်ရင်း ကိုးနဝင်းစေတီတော် (၁၀၈) ဆူ၊ ကိုးနဝင်းရုပ်ပွားတော်များ၊ နဂါးရုံဘုရားတို့ကို နံနက်စောစော ထမနဲဆွမ်း ဆက်ကပ်လှူဒါန်းကာ ညဦးပိုင်း၌ ဆီမီး (၉၀၀၀) ပူဇော်လိုကြပါက တပို့တွဲလပြည့်နေ့အမီ ကြွရောက်ကြရမည်ဖြစ်ပါသည်။



အလောင်းတော်ကဿပ ဆွမ်းဆန်စိမ်းလောင်းလှူပူဇော်ပွဲကြီးကို လောင်းလှူပူဇော်ရင်း နွေဦးအစ သဘာဝအလှရှုခင်းများကို ကြည့်ရှုခံစားလိုသူများအနေဖြင့် တပေါင်းလပြည့်နေ့အမီ ကြွရောက်ကြရမည်ဖြစ်ပါသည်။

(တပို့တွဲ၊ တပေါင်းပွင့်လင်းရာသီတွင် အလောင်းတော်ကဿပ ဘုရားဖူးခရီး စီစဉ်ပို့ဆောင်ပေးနေသော ဖိုလ်ဝင်တောင်၊ ပုပ္ပါးကျောင်း သာသနာပြုဆရာတော် ဦးသုမန၏တပည့်၊ ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ် (၁၀) လမ်းထိပ်၊ မဟာဗန္ဓုလလမ်းနေ ကိုမောင်မောင်ဌေး၊ ဖုန်း-၂၂၆၀၂၄ ထံ ဆက်သွယ်ပါက ဘုရားဖူးခရီးစဉ် အစအဆုံးအဆင်ပြေချောမွေ့စေရန် တာဝန်ယူပို့ဆောင်ပေးမည်ဖြစ်ပါသည်။)

မိမိတို့ အစီအစဉ်ဖြင့် ဘုရားဖူးလာလိုသူများအတွက် အလောင်းတော်ကဿပခရီးကို လမ်းညွှန်လိုက်ပါသည်။

- မုံရွာမြို့သို့ ရောက်အောင်လာပါ။
- မုံရွာမြို့မှ ညောင်ပင်ကြီးဆိပ်ကမ်းသို့ စက်လှေကူးတို့ဖြင့် ကူးပါ။ (သို့မဟုတ် ချင်းတွင်းတံတားကြီးကို ကားဖြင့်ဖြတ်ကူးပါ။)(ဗျူဟာ ကတ္တရာလမ်းအတိုင်း မောင်း၍ အလောင်းတော်ကဿပသို့ ဆိုင်းဘုတ်ရှိလမ်းခွဲမှ-သစ်ရာပင်၊ သီးကုန်း၊ ကပိုင်မှတဆင့် လည်းသွားနိုင်ပါသည်)
- ညောင်ပင်ကြီးမှ ဖိုလ်ဝင်တောင်သို့ ကားဖြင့်သွားပါ။ (ဖိုလ်ဝင်တောင်၊ ရွှေဘတောင်ရှိ ရှေးဟောင်းသမိုင်းဝင်ဘုရားများ ခရီးတစ်ထောက်နားရင်း ဖူးနိုင်ပါသည်။)

- ဖိုလ်ဝင်တောင်မှ ကားငှား၍ ယင်းမာပင်မြို့၊ လယ်ငေါက်ရွာ၊ ရင်ပေါင်တိုင်ရွာ၊ ကပိုင်ရွာများကိုဖြတ်ကာ ပွင့်ကြီး စခန်း၊ ဂုံညှင်းပင်စခန်း၊ မဟူနတ်နန်း၊ ကျောက်မြောင်း စခန်း၊ ချောင်းမကြီးစခန်း၊ အမျိုးသားဥယျာဉ် ဆင်စခန်း၊ သစ်လုံးအိမ်အထိ ကားဖြင့်သွားနိုင်ပြီး သစ်လုံးအိမ်မှ အလောင်းတော်ကဿပ ဂန္ဓကုဋီစံကျောင်းသို့ ဆင်စီး၍ ဗြင်း၊ အညောင်းပြေခြေလျင် လမ်းလျှောက်၍ဗြင်း သွားနိုင်ပါသည်။



- ခရီးမိုင်အားဖြင့် ညောင်ပင်ကြီးဆိပ်ကမ်းမှ ယင်းမာပင်ထိ ၁၇-မိုင်၊ ယင်းမာပင်မှ ဇီးတော ၅-မိုင်၊ ဇီးတောမှ ရင်ပေါင်တိုင်အထိ ကျောက်ခင်းလမ်း ၂-မိုင်၊ ရင်ပေါင်တိုင်မှ ကပိုင်ရွာ၊ ပွင့်ကြီးစခန်းအထိ မြေပြန့်မြေလမ်း ၁၆-မိုင်၊ ပွင့်ကြီးစခန်းမှ ဘုရားဝတောင်တက်လမ်း ၁၆-မိုင်၊ ဘုရားဝမှ အလောင်းတော်ကဿပစံကျောင်းတော်အထိ ခြေလျင်လမ်း ၁-မိုင်၊ စုစုပေါင်း (၅၇) မိုင် ဖြစ်ပါသည်။

တစ်ချိန်က အဆင်းခက်ခက်၊ အတက်ကြမ်းကြမ်းနှင့် လမ်းမသာခဲ့သော အလောင်းတော်ကဿပ ခရီးသည် နှစ်ဆယ့်တစ်ရာစု မျက်မှောက်ခေတ်တွင်မူ အဘက်ဘက်မှ တိုးတက်စည်ကားနေပြီဖြစ်၍ လမ်းများလည်း အဆင့်ဆင့်



စံကျောင်း



တည်းခိုဆောင်

ကောင်းမွန်နေပြီဖြစ်ရာ အဆင်းလည်းမခက်၊ အတက်လည်း မကြမ်းတော့ပဲ မပင်မပန်း သွားလမ်းသာ၍ လာလမ်းလည်း ဖြောင့်ဖြူးနေပါပြီ။

ဘုရားဖူးပါရမီရှင်များ အရောက်လှမ်းခဲ့ကြဖို့ ဖိတ်ခေါ်ရင်း မရောက်ဖူးသူများရော ရောက်ဖူးသူများကိုပါ . . . ကြိုဆိုလျှက် . . .။

လှသိန်းဝင်း (ကနီ)

## ကျမ်းကိုးစာရင်း

၁။ တရေးတော်ကြီး ဦးထွန်းအောင်-ရေး စေတီယပကာသနီကျမ်း၊

၂။ စစ်ကိုင်းတိုင်းကနီမြို့ မြို့နယ်မှတ်တမ်း၊ (မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီခေတ်)

၃။ အငြိမ်းစားကျောင်းအုပ်ဆရာကြီး ဦးအောင်သိန်း-ရေး အလောင်းတော်ကဿပသမိုင်းမှတ်တမ်း၊

၄။ ထီးချိုင့်မြို့ တည်တောဆရာတော်ဘုရားကြီး-ရေး အလောင်းတော်ကဿပသမိုင်း (လက်ရေးမူ)

၅။ ၁၁၆၄-ခု တန်ခူးလဆန်း ၁၅ ရက်နေ့စွဲပါ ဘိုးတော်စစ်တမ်း၊

၆။ ၁၁၅၄-ခုနှစ် တပေါင်းလရက်စွဲပါ အကုလဆရာတော်၏ အလောင်းတော်ကဿပကျောက်စာ၊

၇။ အရှင်ကဝိန္ဒ(ဝုပ္ပါး)၏ အလောင်းတော်ကဿပသမိုင်းသစ်၊

၈။ ၂၀၀၂ ခုနှစ် အရှင်မဟာကဿပ ရဟန္တာမထေရ်မြတ်ကြီး (အလောင်းတော်ကဿပ) ဂေါပကအဖွဲ့၏ တင်ပြချက်များ၊ (နိုင်ငံတော်အကြီးအကဲများ ခရီးစဉ်တွင် တင်ပြသည့်စာအုပ်)